Great Wall-Zhong Neng Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဥ်း၍ လုပ်ငန်း ဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှ အတည်ချက် တင်ပြလာခြင်း | | ၅-၇-၂၀၁၈ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန(One Stop Service)သို့ သဘောထား တောင်းခံခြင်း- | ၉-၇-၂၀၁၈ | ၁၂-၇-၂၀၁၈ | |
| ၃ | ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန၏ သဘောထား အရ အဆိုပြုချက် ပြင်ဆင် တင်ပြ လာခြင်း | | ၁၇-၇-၂၀၁၈ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၀/၂၀၁၈ (၂၃-၇-၂၀၁၈) | | |
| ၅ | အဆိုပြုချက်အား လက်ခံကြောင်း အကြောင်းကြားခြင်း | ၂၃-၇-၂၀၁၈ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အား ကုမ္ပဏီသို့အကြောင်းကြားခြင်း | ၃၀-၇-၂၀၁၈ | ၁-၈-၂၀၁၈ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၂/၂၀၁၈ (၁၀-၈-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၅) ရက်** | | |

### အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Great Wall-Zhong Neng Company Limited

**လုပ်ငန်းအမျိုးအစား** ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

**PATအကြိမ်/နေ့စွဲ** ၂၀/၂၀၁၈ (၂၃-၇-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး (Â)<br>မပြီး (x) | မှတ်ချက် |
|---|---|---|---|
| ၁ | ပြည်တွင်းမှ ထည့်ဝင်မည့် မတည်ငွေရင်းတွင် မြန်မာကျပ်ငွေဖြင့် ပူးတွဲဖော်ပြရန် | Â | ၁-၈-၂၀၁၈ ရက်နေ့တွင် ပြင်ဆင်တင်ပြပါသည်။ |
| ၂ | | | |
| ၃ | | | |
| ၄ | | | |
| ၅ | | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Zhong Neng Company Limited မှ ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Great Wall-Zhong Neng Company Limited/ |
| | ကမကထပြုသူ | -ဦးထွန်းထွန်းဝင်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Honda (Myanmar) International Co.,Ltd.<br>(မြန်မာ) ၅၅%<br>Mr. Song Huimin<br>(China) ၄၅% |
| | လုပ်ငန်းအမျိုးအစား | - ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-(ည/၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅က၊ ၁၆က)၊ ဠ/၆၊ ကွင်းအမှတ်-၇၈၃(တောင်ညို)၊ ဦးပိုင်အမှတ်-ည/၁၉၊ ကွင်းအမှတ်- ၇၈၄ လင်မလိုရွှေကူကွင်း၊ ပတ္တမြားရပ်ကွက်၊ စစ်ကိုင်းမြို့ ၊ စစ်ကိုင်းတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးတင်မောင်၊ ဒေါ်ကြည်ကြည်ဝင်း၊ ဦးထွန်းထွန်းဝင်း ၊ ဒေါ်နန်းလှစိန် |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၆၆.၄၂ ဧက |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - US$ ၃၀,၀၀၀ |

| စဉ် | မြေပိုင်ရှင် | ငှားရမ်းမည့် မြေဧရိယာ (ဧက) | တစ်နှစ်တစ် စတုရန်းမီတာ နှုန်း(US$) | နှစ်စဉ်ငှား ရမ်းခ |
|---|---|---|---|---|
| က | ဦးတင်မောင် | ၂၄ | ၀.၁၁၁၆၁ | ၁၀,၈၄၀ |
| ခ | ဒေါ်ကြည်ကြည်ဝင်း | ၈ | ၀.၁၁၁၅ | ၃,၆၁၀ |
| ဂ | ဦးထွန်းထွန်း ဝင်း | ၈ | ၀.၁၁၁၅ | ၃,၆၁၀ |
| ဃ | ဒေါ်နန်းလှစိန် | ၂၆.၄၂ | ၀.၁၁၁၆၇ | ၁၁,၉၄၀ |
| | စုစုပေါင်း | ၆၆.၄၂ | | ၃၀,၀၀၀ |

| | | |
|---|---|---|
| | မြေငှားရမ်းကာလ | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |

၆။ စုစုပေါင်းမတည်ငွေရင်းပမာဏ

- အမေရိကန်ဒေါ်လာ ၆.၀၀ သန်း

US$(သန်း)

| | ပြည်တွင်း | | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| | ကျပ် | ညီမျှသော US$ | US$ | |
| ငွေသား | - | | ၁.၇၄ | ၁.၇၄ |
| စက်ပစ္စည်း | ၂၂၀၅.၉၀ | ၁.၇၀ | ၀.၉၆ | ၂.၆၆ |
| အဆောက်အဦး | ၂၁၂၈.၀၀ | ၁.၆၀ | - | ၁.၆၀ |
| စုစုပေါင်း | ၄၃၃၃.၉ | ၃.၃၀ | ၂.၇၀ | ၆.၀၀ |

၇။ ဝန်ထမ်းအင်အား

- ၉၆ ဦး

ပြည်တွင်း

- ၉၂ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ

- ၄ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁,၉၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ် ပါသည်။)

၈။ ရောင်းချမည့်စနစ်

- ပြည်တွင်း ၁၀၀ %

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် ($m^3$) | ရောင်းချမည့် ဈေးနှုန်း (Kyats/$m^3$) |
|---|---|---|---|
| (က) | Plywood | ၃၇,၅၀၀ | ၆၀၀,၀၀၀ |
| (ခ) | Blockboard | ၁၂,၅၀၀ | ၆၅၀,၀၀၀ |

၉။ အခြားတင်ပြချက်

- Great Wall-Zhong Neng Company Limited နှင့် ဦးတင်မောင်၊ ဒေါ်ကြည်ကြည်ဝင်း၊ ဦးထွန်းထွန်းဝင်း ၊ ဒေါ်နန်းလှစိန် တို့ကြား ချုပ်ဆို မည့် မြေငှားစာချုပ် (မူကြမ်း) ၊ Honda (Myanmar) International Co.,Ltd. နှင့် Mr. Song Huimin တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)တို့အား တင်ပြထားပါသည်။
- ငွေရေးကြေးရေး အထောက်အထားအဖြစ် Great Wall-Zhong Neng Company Limited အမည်ဖြင့် ရောဝတီဘဏ်တွင်၂၉-၃-၂၀၁၈ရက်စွဲဖြင့်အမေရိကန်ဒေါ်လာ ၇၅၀၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - Great Wall-Zhong Neng Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်အနေဖြင့် မီးသတ်အချက်ပေးစနစ်တပ်ဆင်ခြင်း၊ မီးသတ်ပိုက်များထားရှိခြင်းနှင့် ဝန်ထမ်းများအား သင်တန်းပေးခြင်းစသည်တို့ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင် ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာချောင်ချိရေးအနေဖြင့် ကြို/ပို့ ယာဉ်များစီစဉ်ပေးခြင်း၊ တူညီဝတ်စုံများအား တစ်နှစ်လျှင် ၂ကြိမ်ထောက်ပံ့ပေးခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှုပေးခြင်း စသည်တို့အား ဆောင်ရွက်ထားပါကြောင်း တင်ပြထားပါသည်။<br>- ယူကလစ်ကုန်ကြမ်းအား မိခင်ကုမ္ပဏီဖြစ်သော Honda (Myanmar) International Co.,Ltd နှင့် မိတ်ဘက် ကုမ္ပဏီဖြစ်သော Great Wall Group Company များမှ စိုက်ပျိုးထားသည့် စိုက်ခင်းများမှ ဝယ်ယူ၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ ခ-ဝ၂၆ /၂ဝ၁၈(      )

ရက်စွဲ ၊ ၂ဝ၁၈ ခုနှစ်   ဩဂုတ်လ      ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Zhong Neng Company Limited မှ ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Zhong Neng Company Limited မှ ဦးပိုင်အမှတ်-(ည/၁၊ ၂၊ ၃၊ ၄ ၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁ဝ၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅က၊ ၁၆က)၊ ၄၂/၆၊ ကွင်းအမှတ်- ၇၈၃(တောင်ညို)၊ ဦးပိုင်အမှတ်-ည/၁၉၊ ကွင်းအမှတ်- ၇၈၄ လင်မလိုရွှေကူကွင်း၊ ပတ္တမြားရပ်ကွက်၊ စစ်ကိုင်းမြို့ ၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ (၆၆.၄၂) ဧကကို ငှားရမ်း၍ ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးတင်မောင်၊ ဒေါ်ကြည်ကြည်ဝင်း၊ ဦးထွန်းထွန်းဝင်း ၊ ဒေါ်နန်းလှစိန်နှင့် Great Wall-Zhong Neng Company Limited တို့ကြား ချုပ်ဆိုမည့်မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ Honda (Myanmar) International Co.,Ltd. နှင့် Mr. Song Huimin တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)နှင့် မြေဆိုင်ရာ အထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃ဝ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ် ၁ဝ နှစ် ၂ ကြိမ်သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၆၆.၄၂ ဧကအား ငှားရမ်းမည်ဖြစ်ပြီး မြေငှားရမ်းခများမှာ ဦးပိုင်အမှတ်-ည/၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ကွင်းအမှတ်-၇၈၃(တောင်ညို)ရှိ မြေဧရိယာ ၂၄ ဧကအတွက် အမေရိကန် ဒေါ်လာ ၁ဝ၈၄ဝ၊ ဦးပိုင်အမှတ်-ည/၇၊ ၈၊ ကွင်းအမှတ်-၇၈၃(တောင်ညို)ရှိ မြေဧရိယာ ၈ ဧကအတွက် အမေရိကန်ဒေါ်လာ ၃၆၁ဝ ၊ ဦးပိုင်အမှတ်-ည/၉၊ ၁ဝ၊ ကွင်းအမှတ်-၇၈၃(တောင်ညို) ရှိ မြေဧရိယာ ၈ ဧက အတွက် အမေရိကန် ဒေါ်လာ ၃၆၁ဝနှင့် ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅က၊ ၁၆က၊ ၄၂/၆၊ ကွင်းအမှတ်-၇၈၃(တောင်ညို)၊ ဦးပိုင်အမှတ်-ည/၁၉၊ ကွင်းအမှတ်-၇၈၃ (လင်မလိုရွှေကူ)ရှိ မြေဧရိယာ ၂၆.၄၂ ဧကအတွက် အမေရိကန်ဒေါ်လာ ၁၁၉၄ဝဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၆.၀၀ သန်းဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$/ သန်း

| | ပြည်တွင်း | | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| | ကျပ် | ညီမျှသော US$ | US$ | |
| ငွေသား | - | | ၁.၇၄ | ၁.၇၄ |
| စက်ပစ္စည်း | ၂၂၀၅.၉၀ | ၁.၇၀ | ၀.၉၆ | ၂.၆၆ |
| အဆောက်အဦး | ၂၁၂၈.၀၀ | ၁.၆၀ | - | ၁.၆၀ |
| **စုစုပေါင်း** | **၄၃၃၃.၉** | **၃.၃၀** | **၂.၇၀** | **၆.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၉၂ ဦးနှင့် ပြည်ပဝန်ထမ်း ၄ ဦး စုစုပေါင်းဝန်ထမ်းဦးရေ ၉၆ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁,၉၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **ပစ္စည်းအမျိုးအစား** | **အရေ အတွက် (m3)** | **ရောင်းချမည့် ဈေးနှုန်း (Kyats/m3)** |
|---|---|---|---|
| (က) | Plywood | ၃၇,၅၀၀ | ၆၀၀,၀၀၀ |
| (ခ) | Blockboard | ၁၂,၅၀၀ | ၆၅၀,၀၀၀ |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကိုရေးဆွဲတင်ပြရမည်ဖြစ်ကြောင်းသဘောထားပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Great Wall-Zhong Neng Company Limited အမည်ဖြင့် ရောဝတီဘဏ်တွင်၂၉-၃-၂၀၁၈ရက်စွဲဖြင့်အမေရိကန်ဒေါ်လာ ၇၅၀၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်များကိုလည်း တင်ပြထားပါသည်။

(ဂ) ယူကလစ်ကုန်ကြမ်းအား မိခင်ကုမ္ပဏီဖြစ်သော Honda (Myanmar) International Co.,Ltd. နှင့် မိတ်ဘက်ကုမ္ပဏီ ဖြစ်သော Great Wall Group Company များမှ စိုက်ပျိုးထားသည့် စိုက်ခင်းများမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Zhong Neng Company Limited မှ ယူကလစ်ကို အသုံးပြု၍ အထပ်သားနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

MIC ၁၁၇ / ၁၇/၇

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၅၇/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Great Wall-Zhong Nang Co., Ltd. မှ ယူကလစ်ကိုအသုံးပြု၍ အထပ်သားနှင့်သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၂/ အ-၀၃၅/ ၂၀၁၈(၃၁၀)

၁။ မြန်မာနိုင်ငံရှိ Honda (Myanmar) International Co., Ltd. မှ ၅၅% နှင့် တရုတ်နိုင်ငံသား Mr. Song Huimin မှ ၄၅% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Great Wall-Zhong Nang Co., Ltd. တည်ထောင်ပြီး ဦးပိုင်အမှတ်- ည/(၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄၊ ၁၅(က)၊ ၁၆(က))၊ ၄/၆၊ ကွင်းအမှတ်- ၇၈၃ (တောင်ညို)၊ ဦးပိုင်အမှတ်- ည/၁၉၊ ကွင်းအမှတ်- ၇၈၄ လင်မလိုရွှေကူကွင်း၊ ပတ္တမြားရပ်ကွက်၊ စစ်ကိုင်းမြို့၊ စစ်ကိုင်းတိုင်းဒေသကြီးရှိမြေ ၆၆.၄၂ ဧက (၂,၆၈,၇၉၂ စတုရန်းမီတာ)တွင် ယူကလစ်ကိုအသုံးပြု၍ အထပ်သားနှင့်သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ် ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ ၆၆.၄၂ ဧက (၂,၆၈,၇၉၂ စတုရန်းမီတာ) တွင် လိုအပ်သောစက်ရုံအဆောက်အဦများနှင့် တည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ လိုအပ်သောယူကလစ်ပင်ကုန်ကြမ်းအား စစ်ကိုင်းတိုင်းဒေသကြီးရှိ ၁၁၇ မိုင်စိုက်ခင်းတွင် ၃၆၁.၉၉ ဧက၊ ကျောက်ထုံးကြီးစိုက်ခင်းတွင် ၉၀၅.၃၃ ဧက၊ မင်းလယ်စိုက်ခင်းတွင် ၂၇၇.၇၉ ဧက၊ ဘိုကုန်းစိုက်တွင် ၂၈၄.၃၁ ဧက၊ မောင်းကုန်းစိုက်ခင်းတွင် ၁၂၉.၅၆ ဧက၊ ဟုမ္မလင်းစိုက်ခင်းတွင် ၃၂၃.၀၉ ဧက၊ ဖောင်းပြင်စိုက်ခင်းတွင် ၁၂၈၄.၀၇ ဧက၊ မန္တလေးတိုင်းဒေသကြီးရှိ ခရမ်းစိုက်ကုန်းစိုက်ခင်းတွင် ၁၄၁.၉၁ ဧက၊

ပြင်စာစိုက်ခင်းတွင် ၃၃၄.၉၄ ဧက၊ ပြရှာစိုက်ခင်းတွင် ၈၉.၉၇ ဧက၊ ရှမ်းပြည်နယ်မြောက်ပိုင်းရှိ ၁၀၉ မိုင်စိုက်ခင်းတွင် ၀၃.၁ ဧက၊ ငွေဆောင်စိုက်ခင်းတွင် ၄၁.၇၉ ဧက၊ စုစုပေါင်း ၄၇၈၇ ဧကမှ ထုတ်ယူသုံးစွဲ၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် သစ်ကုန်ကြမ်းမှ သစ်အချောထည်အဖြစ် တစ်နှစ်လျှင်(၅၀၀၀၀ $m^3$) (၁၀) နှစ်အတွင်း (၇၇၅၆၆.၄၁ $m^3$) ထိ တိုးမြှင့် ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်သောစနစ်ကိုလည်း တပ်ဆင်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာနနှင့်မြန်မာ့သစ်လုပ်ငန်းတို့၏ စိစစ်သုံးသပ်မှုနှင့် အကြံပြုချက်များအရ အောက်ဖော်ပြပါကိစ္စရပ်များကို လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါသည် -

(က) Great Wall-Zhong Nang Co., Ltd. မှ ယူကလစ်ကိုအသုံးပြု၍ အထပ်သားနှင့်သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ သစ်တော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည် ဖြစ်ကြောင်း၊

(ခ) စက်ရုံရှိ သစ်ခွဲစက်၊ သစ်ပါးလွှာစက်၊ ပါကေးစက်စသည့် စက်ပစ္စည်းများ တည်ထောင်လည်ပတ်ခွင့်ကို သစ်တောဦးစီးဌာနသို့ တင်ပြ ခွင့်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ကြောင်း၊

(ဂ) ရေရှည်ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် နှစ်စဉ်ကုန်ကြမ်းလိုအပ်မှု ပမာဏတွက်ချက်ပြီး ပုဂ္ဂလိကသစ်တော စိုက်ခင်းတည်ထောင်ခွင့်နှင့် မြန်မာ့သစ်လုပ်ငန်းမှကျင်းပသော အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်မည် ဖြစ်ကြောင်း၊

(ဃ) မြန်မာ့သစ်လုပ်ငန်းတင်ဒါခေါ်များတွင် ဝယ်ယူရာ၌ အမေရိကန်ဒေါ်လာဖြင့် ဝယ်ယူသည့် ကုန်ကြမ်းသစ်လုံးများမှ ထွက်ရှိသော အချောထည်များကိုသာ ပြည်ပသို့တင်ပို့ ရောင်းချနိုင်ပြီး မြန်မာကျပ်ငွေဖြင့် ဝယ်ယူရရှိခြင်းဖြစ်ပါက ပြည်ပသို့တင်ပို့ခွင့်မရှိဘဲ ပြည်တွင်း၌သာ ရောင်းချရမည် ဖြစ်ကြောင်း၊

(င) နိုင်ငံပိုင်သစ်တောသယံဇာတအရင်းအမြစ်များ ရှေ့တာနိုင်ရေးအတွက် နိုင်ငံတကာမှတားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများ တင်သွင်းဆောင်ရွက်ခြင်းဖြင့် ကုန်ကြမ်းလိုအပ်ချက်ကိုဖြည့်ဆည်းနိုင်မည် ဖြစ်ပါကြောင်း၊

၄။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Great Wall-Zhong Nang Co., Ltd. မှ ယူကလစ်ကိုအသုံးပြု၍ အထပ်သားနှင့်သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ဓါတုပစ္စည်းများနှင့်ကော်များကို အသုံးပြုဆောင်ရွက်ရသဖြင့် ကုန်ကြမ်းများသိုလှောင်ခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှထွက်ရှိသည့် စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ခ) စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်၊ အမွှားများ၊ ဆူညံသံများကြောင့် လေထုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်ပြီး စက်ရုံဧရိယာပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးထိခိုက်စေခြင်း၊

(ဂ) သစ်လုံးများခွဲစိတ်ရာတွင် လွှများ၊ အခြားစက်ကိရိယာ ပစ္စည်းများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများမတော်တဆ ဘေးအန္တရာယ် ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) လုပ်ငန်းသုံးစက်၊ ယာဉ်ယန္တယားများနှင့် စက်သုံးဆီအညစ်အကြေး စွန့်ပစ်ပစ္စည်း၊ အရည်များကြောင့် ရေ/မြေ ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ပြီး စီမံကိန်းဧရိယာအနီးတဝိုက်ရှိ ပြည်သူတို့၏ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

(င) စက်ရုံလည်ပတ်ရာတွင် ကျောက်မီးသွေး ဘွိုင်လာမှထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်းနှင့် စွန့်ပစ်အရည်/စွန့်ပစ် ပစ္စည်းများကို ပတ်ဝန်းကျင်ဆိုင်ရာ စံချိန်စံညွှန်းများနှင့် အညီ စနစ်တကျစီမံခန့်ခွဲမှုမရှိခြင်း တို့ကြောင့် စက်ရုံဧရိယာပတ်ဝန်းကျင်ရှိ ပြည်သူများ၏ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၅။ သို့ဖြစ်ပါ၍ Great Wall-Zhong Nang Co., Ltd. မှ ယူကလစ်ကိုအသုံးပြု၍ အထပ်သားနှင့် သစ်အချောထည်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်

စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ စစ်ကိုင်းတိုင်းဒေသကြီး
ရုံးလက်ခံ